# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

| | |
|---|---|
| ကုမ္ပဏီအမည် | Myanmar C.P. Livestock Company Limited |
| လုပ်ငန်းအမျိုးအစား | ဝက်သားပေါက် မွေးမြူရောင်းချခြင်း လုပ်ငန်း (breeder farm and sales of piglets) |
| PATအကြိမ်/နေ့စွဲ | ၂၅/၂၀၁၉ (၂၉-၇-၂၀၁၉) |

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | လုပ်ငန်းအမျိုးအစား ပြင်ဆင် တင်ပြရန်။ | ✔ | |
| ၂ | ပြည်ပမှ တင်သွင်းမည့် ဝက်သားပေါက် အမျိုးအစားနှင့် နိုင်ငံ ဖော်ပြပေးရန်။ | ✔ | |
| ၃ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းတွင် ရောင်းချမည့် ဝက်သားပေါက် အမျိုးအစား နှင့် အလေးချိန် ဖော်ပြပေးရန်။ | ✔ | |
| ၄ | ရင်းနှီးမြှုပ်နှံမှုတွင် ဖော်ပြထားသည့် စက်ပစ္စည်းစာရင်း၊ ရုံးသုံးပရိဘောဂစာရင်းနှင့် အခြားစာရင်းတို့အား နောက်ဆက်တွဲများဖြင့် ပြည့်စုံစွာ တင်ပြပေးရန်။ | ✔ | |

## Myanmar C.P. Livestock Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

ဝက်သားပေါက် မွေးမြူရောင်းချခြင်း လုပ်ငန်း (breeder farm and sales of piglets)

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၂၃-၇-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၃၀-၇-၂၀၁၉ | ၈-၈-၂၀၁၉ | |
| | - စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၃၀-၇-၂၀၁၉ | ၁၄-၈-၂၀၁၉ | |
| | - ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃၀-၇-၂၀၁၉ | - | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၅/၂၀၁၉ (၂၉-၇-၂၀၁၉) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၃၀-၇-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၆-၈-၂၀၁၉ | ၂၆-၈-၂၀၁၉ | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၄/၂၀၁၉ (၃၀-၈-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၃၉) ရက်** | | |

အကြောင်းအရာ။ ရခိုင်ပြည်နယ်ပြည်သူ့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ဝက်သားပေါက် မွေးမြူရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar C.P Livestock Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Uthai Tantipimolphan (Thailand) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရခိုင်ပြည်နယ်ပြည်သူ့နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Thana Holding Company Limited (Thailand)၊ ၂၇%<br>Charoen Pokphand Enterprise Company Limited (Thailand) နှင့် ၂၅%<br>CPG Enterprise Company Limited (Birtish Virgin Islands) ၄၈% |
| | လုပ်ငန်းအမျိုးအစား | - ဝက်သားပေါက် မွေးမြူရောင်းချခြင်း လုပ်ငန်း (breeder farm and sales of piglets) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- ၁၊ ကွင်းအမှတ်-၄၈၄ ကကက ၊ စမ်းချောင်းကွင်း၊ မအူတန်းကျေးရွာအုပ်စု၊ ဒိုက်ဦးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - ဦးလှဝေ (မြတ်မင်းကုမ္ပဏီလီမိတက်) |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေဧရိယာ (၃၄၅.၆၅)ဧကအနက်<br>မြေ (၁၃၃.၃၇၈)ဧက |
| ၄။ | နှစ်စဉ် မြေနှင့် အဆောက်အဦ ငှားရမ်းခ | - မွေးမြူရေးစီမံကိန်း(၁) မြေ ၇၈ ဧက အတွက် တစ်နှစ်လျှင် မြေငှားရမ်းခနှုန်း ကျပ် ၆၀၀,၁၅၀,၀၀၀<br>ဝန်ဆောင်ခ တစ်နှစ်လျှင် ကျပ် ၂၀၀,၀၅၀,၀၀၀<br>- မွေးမြူရေးစီမံကိန်း(၂) မြေ ၅၅.၃၇၈ ဧက အတွက် တစ်နှစ်လျှင် မြေငှားရမ်းခနှုန်း ကျပ် ၆၀၀,၁၅၀,၀၀၀<br>ဝန်ဆောင်ခ တစ်နှစ်လျှင် ကျပ် ၂၀၀,၀၅၀,၀၀၀ |
| | မြေနှင့်အဆောက်အဦ ငှားရမ်းအသုံးပြုခွင့်သက်တမ်း | - ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် |

| | | |
|---|---|---|
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၁၆.၈၂၂ သန်း (ချေးငွေ US$ ၁၁.၇၇၅ သန်း အပါအဝင် ) |

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| - ငွေသား | - | ၆.၄၉၈ | ၆.၄၉၈ |
| - ဝက်မွေးမြူရေးခြံ | ၀.၂၇၅ | ၅.၁၅၂ | ၅.၄၂၇ |
| - အဆောက်အဦး | ၁.၆၄၈ | - | ၁.၆၄၈ |
| - Utilities system | ၃.၁၂၄ | - | ၃.၁၂၄ |
| - မော်တော်ယာဉ် | - | ၀.၁၂၅ | ၀.၁၂၅ |
| **စုစုပေါင်း** | ၅.၀၄၇ | ၁၁.၇၇၅ | ၁၆.၈၂၂ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၁၄၆ ဦး |
| | ပြည်တွင်း | - ၁၄၆ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၅၀,၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| | ထုတ်လုပ်မှု (ပထမနှစ်မြောက်) | |

| စဉ် | အမျိုးအစား | အရေအတွက် (head) | | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ head) | |
|---|---|---|---|---|---|
| | | Farm 1 | Farm 2 | Farm 1 | Farm 2 |
| (က) | piglet | ၁၂၄,၈၀၀ | ၁၂၄,၈၀၀ | ၇၅,၀၀၀ | ၇၅,၀၀၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၄၂၆,၆၆၆ kWh |
| ၁၀။ | အခြားတင်ပြချက် | - မြေအထောက်အထားအဖြစ် ဦးလှဝေ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေစာရင်းပုံစံ- ၁၀၅ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးလှဝေမှ မြတ်မင်းကုမ္ပဏီလီမိတက်(ဦးဖြိုးလှဝေ) အား ဦးပိုင်အမှတ်-(၁)၊ ကွင်းအမှတ်- (၄၈၄ကတ)၊ စမ်းချောင်းကွင်း၊ မအူတန်းကျေးရွာအုပ်စု၊ ဒိုက်ဦးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီး၊ မြေ(၃၄၅.၆၅)ဧကရှိ မြေကွက် နှင့်ပတ်သက်၍ ဆောက်လုပ်ရေး လုပ်ငန်းများ ဆောက်လုပ်ခြင်း၊ ရောင်းချခြင်း၊ မြေကွက်ခွဲစိတ်ခြင်း၊ ပေါင်နှံခြင်း၊ လွှဲပြောင်းခြင်း အစရှိသည့် ကိစ္စအဝဝတို့ကို ဆောင်ရွက်နိုင်ရန် အထူးကိုယ်စားလှယ် လွှဲအပ်ထားသည့် အထောက်အထား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Myant Min Co., Ltd. နှင့် Myanmar C.P Livestock Company Limited တို့အကြား ချုပ်ဆိုမည့် Swine Project (၂)ခု၏ Land Use and Project Investment Agreement များအား တင်ပြထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် Farm 1 နှင့် Farm 2 အတွက် Boar နှင့် Sow US$ ၇,၀၂၇,၄၃၈ အား ပထမနှစ်တွင် တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar C.P Livestock Company Limited အမည်ဖြင့် Bangkok Bank Yangon Branch တွင် ၃၁-၃-၂၀၁၉ ရက်စွဲဖြင့် US$ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် ပြည်ပရှိ Bangkok Bank မှ ချေးငွေ အမေရိကန်ဒေါ်လာ ၁၁.၇၇၅ သန်းအား ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း Swine Project (၂)ခု၏ တည်နေရာပြ မြေပုံနှင့် Layout Plan တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145 တွင် အကျုံးဝင်ပါသည်။ |

**ကန့်သတ်**



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၄၇/၂၀၁၉( ၂၅၄ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဩဂုတ်လ ၂၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ဝက်သားပေါက် မွေးမြူရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံရှိ Thana Holding Company Limited မှ ၂၇% ထိုင်းနိုင်ငံရှိ Charoen Pokphand Enterprise Company Limited မှ ၂၅% ၊ Birtish Virgin Islands နိုင်ငံရှိ CPG Enterprise Company Limited မှ ၄၈% အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ဦးပိုင်အမှတ်-(၁)၊ ကွင်းအမှတ်-(၄၈၄ကတ)၊ စမ်းချောင်းကွင်း၊ မအူတန်းကျေးရွာအုပ်စု၊ ဒိုက်ဦးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ(၃၄၅.၆၅)ဧကအနက် မြေ(၁၃၃.၃၇၈)ဧကအား ငှားရမ်း၍ ဝက်သားပေါက် မွေးမြူရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ Myat Min Company Limited နှင့် **Myanmar C.P Livestock Company Limited တို့အကြား ချုပ်ဆိုမည့်** Swine Project (၂)ခု၏ **Land Use and Project Investment Agreement** များ နှင့် မြေပိုင်ရှင် ဦးလှဝေ အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေစာရင်းပုံစံ- ၁၀၅ ၊ မြေပိုင်ရှင် ဦးလှဝေမှ မြတ်မင်းကုမ္ပဏီလီမိတက်(ဦးဖြိုးလှဝေ) အား ဦးပိုင်အမှတ်-(၁)၊ ကွင်းအမှတ်- (၄၈၄ကတ)၊ စမ်းချောင်းကွင်း၊ မအူတန်းကျေးရွာအုပ်စု၊ ဒိုက်ဦးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီး၊ မြေ(၃၄၅.၆၅)ဧကရှိ မြေကွက် နှင့်ပတ်သက်၍ ဆောက်လုပ်ရေး လုပ်ငန်းများ ဆောက်လုပ်ခြင်း၊ ရောင်းချခြင်း၊ မြေကွက်ခွဲစိတ်ခြင်း၊ ပေါင်နှံခြင်း၊ လွှဲပြောင်းခြင်း အစရှိသည့် ကိစ္စအဝဝတို့ကို ဆောင်ရွက်နိုင်ရန် အထူး ကိုယ်စားလှယ် လွှဲအပ်ထားသည့် အထောက်အထား နှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် ဖြစ်ပါသည်။ မွေးမြူရေးစီမံကိန်း(၁) မြေ ၇၈ ဧက အတွက် တစ်နှစ်လျှင် မြေနှင့် အဆောက်အဦ ငှားရမ်းခနှုန်း ကျပ် ၆၀၀,၁၅၀,၀၀၀ နှင့် ဝန်ဆောင်ခ ကျပ် ၂၀၀,၀၅၀,၀၀၀ ဖြစ်ပြီး မွေးမြူရေးစီမံကိန်း(၂) မြေ ၅၅.၃၇၈ ဧက အတွက် တစ်နှစ်လျှင် မြေနှင့် အဆောက်အဦ ငှားရမ်းခနှုန်း ကျပ် ၆၀၀,၁၅၀,၀၀၀ နှင့် ဝန်ဆောင်ခ ကျပ် ၂၀၀,၀၅၀,၀၀၀ ဖြစ်ပါသည်။

**ကန့်သတ်**

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ **အမေရိကန်ဒေါ်လာ ၁၆.၈၂၂ သန်း (ချေးငွေ US$ ၁၁.၇၇၅ သန်း အပါအဝင်)** ဖြစ်ပြီး ပြည်ပမှ Farm 1 နှင့် Farm 2 အတွက် Boar နှင့် Sow US$ ၇,၀၂၇,၄၃၈ အား ပထမနှစ်တွင် တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| - ငွေသား | - | ၆.၄၉၈ | ၆.၄၉၈ |
| - ဝက်မွေးမြူရေးခြံ | ၀.၂၇၅ | ၅.၁၅၂ | ၅.၄၂၇ |
| - အဆောက်အဦး | ၁.၆၄၈ | - | ၁.၆၄၈ |
| - Utilities system | ၃.၁၂၄ | - | ၃.၁၂၄ |
| - မော်တော်ယာဉ် | - | ၀.၁၂၅ | ၀.၁၂၅ |
| စုစုပေါင်း | ၅.၀၄၇ | ၁၁.၇၇၅ | ၁၆.၈၂၂ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၁၄၆)ဦး ခန့်ထားမည် ဖြစ်ပါသည်။ **ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၅၀,၀၀၀ ဖြစ်ပါသည်။**

၇။ အဆိုပြုလုပ်ငန်းမှ ဝက်သားပေါက်များကို ပြည်တွင်းသို့ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (head) | | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ head) | |
|---|---|---|---|---|---|
| | | Farm 1 | Farm 2 | Farm 1 | Farm 2 |
| (က) | piglet | ၁၂၄,၈၀၀ | ၁၂၄,၈၀၀ | ၇၅,၀၀၀ | ၇၅,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ Myanmar C.P. Livestock Company Limited ၏ ပဲခူးတိုင်းဒေသကြီး၊ ဒိုက်ဦးမြို့နယ်၊ မအူတန်းကျေးရွာအုပ်စုရှိ မြေ (၁၃၃.၃၇၈)ကေကို ငှားရမ်း၍ ဝက်သားပေါက် မွေးမြူရောင်းချခြင်း လုပ်ငန်း

ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်း ဝက်မွေးမြူထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပြီး မွေးမြူရေး နှင့်ကုသရေးဦးစီးဌာနက ပြဋ္ဌာန်းထားသည့် မွေးမြူရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်၍ ကောင်းမွန်သော မွေးမြူရေး ကျင့်စဉ် (Good Animal Husbandry Practice–GAHP) နည်းစနစ်များနှင့် အညီ မွေးမြူမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။

နောက်ဆက်တွဲ(က)

(ဂ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီး ဌာနမှ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment–EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan–EMP)ကို ရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ခ)

(ဃ) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထား တောင်းခံထားပါသည်။

နောက်ဆက်တွဲ(ဂ)

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Myanmar C.P Livestock Company Limited အမည်ဖြင့် Bangkok Bank Yangon Branch တွင် ၃၁-၃-၂၀၁၉ ရက်စွဲဖြင့် US$ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ကုမ္ပဏီသည် ပြည်ပရှိ Bangkok Bank မှ ချေးငွေ အမေရိကန်ဒေါ်လာ ၁၁.၇၇၅ သန်းအား ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါ သည်။

၁၁။ အဆိုပြုလုပ်ငန်း၏ တည်နေရာပြ မြေပုံ နှင့် Layout Plan ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဇူလိုင်လ ၂၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၅/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်–

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code–0145 တွင် အကျုံးဝင်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ဝက်သားပေါက် မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်** အဆိုပြုချက်တင်ပြလာခြင်း အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

(ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

DA 284/16-8

ဒု-ညွှန်ချုပ်(၁)ဝင်စာ
စာအမှတ် ၀၀၂
ရက်စွဲ 13.8.19
အချိန်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၂၇၆ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

NPT-3451
15-8-19

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC 303 19-8

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၇-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၄၇/၂၀၁၉(၂၂၇)

၁။ Myanmar CP Livestock Co., Ltd သည် ရခိုင်ရှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- (၁) ၊ ကွင်းအမှတ်- (၄၈၄ ^ကကက^)၊ စမ်းချောင်းကွင်း၊ မအူတန်းကျေးရွာအုပ်စု၊ ဒိုက်ဦးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ (၃၄၅.၆၅) ဧက အနက် မြေ (၁၃၃.၃၇၈) ဧက ကို ငှားရမ်း၍ ဝက်သားပေါက် မွေးမြူရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ပဲခူးတိုင်းဒေသကြီး၊ ဒိုက်ဦးမြို့နယ်ဦးစီးမှူး ခေါင်းဆောင်သော အဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးခဲ့ရာ-

(က) ဝက်သားပေါက်မွေးမြူရောင်းချခြင်းလုပ်ငန်းသည် ဦးလှဝေ အမည်ဖြင့် ဥယျာဉ်ခြံအဖြစ် စက်မှုမြေငှားဂရန် နှစ် (၃၀) ချထားပေးကြောင်း၊

(ခ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် အနီးပတ်ဝန်းကျင် ကျေးရွာများဖြစ်သည့် မအူတန်းကျေးရွာနှင့် (၁)မိုင်ခန့် ကွာဝေးပြီး ဘောနီကျေးရွာနှင့် (၁.၅)မိုင်ခန့် ကွာဝေးကြောင်း၊

(ဂ) အဆိုပါမြေပေါ်၌ ဝက်မွေးမြူမည့် အဆောက်အဦ (၂၃)လုံးပါ ယူနစ် (၂) ခုနှင့် Silo (၂၇)လုံး ဆောက်လုပ်ထားပါကြောင်း၊

(ဃ) မွေးမြူမှုအနေဖြင့် Evaporated Cooling System မွေးမြူပြီး Automatic drainage System ဖြင့် Biogas များ ထုတ်လုပ်၍ စွမ်းအင်အဖြစ် ပြန်လည်အသုံးချမည်ဖြစ်သောကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုအနံ့ဆိုးများ ကင်းစင်စေခြင်း၊ တစ်နှစ်လျှင် ဝက်သားပေါက် (၂၄၉၆၀၀) ကောင် ထုတ်လုပ်ရောင်းချမည်ဖြစ်သောကြောင့် တစ်ပိုင်တစ်နိုင် မွေးမြူရေးလုပ်ငန်းများ တိုးတက်လာပြီး အသားကဏ္ဍဖွံ့ဖြိုးတိုးတက်လာစေခြင်း၊ ဝန်ထမ်းလုပ်သား (၁၄၆)ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်သောကြောင့် ဒေသတွင်းနေပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများ တိုးတက်လာပြီး လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar CP Livestock Co., Ltd သည် ပဲခူးတိုင်းဒေသကြီး၊ ဒိုက်ဦးမြို့နယ်၊ မအူတန်းကျေးရွာအုပ်စုရှိ မြေ (၁၃၃.၃၇၈) ဧက ကို ငှားရမ်း၍ ဝက်သားပေါက် မွေးမြူရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်း ဝက်မွေးမြူထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပြီး မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနက ပြဋ္ဌာန်းထားသည့် မွေးမြူရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်၍ ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice– GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မိတ္တူ–

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

နောက်ဆက်တွဲ (ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၄၉/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၈ ရက်

MIC 280 8/8

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar C.P. Livestock Company Limited မှ ဝက်သားပေါက် မွေးမြူရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၇-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၄၇/၂၀၁၉ (၂၂၅)

၁။ ထိုင်းနိုင်ငံရှိ Thana Holding Co., Ltd. မှ ၂၇%၊ Charoen Pokphand Enterprise Co., Ltd. မှ ၂၅% နှင့် British Virgin Islands ရှိ CPG Enterprise Ltd. မှ ၄၈% အစုရှယ်ယာများအသီးသီး ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Co., Ltd. တည်ထောင်ပြီး ဦးပိုင်အမှတ်- ၁၊ ကွင်းအမှတ်- ၄၈၄(ကတ)၊ စမ်းချောင်းကွင်း၊ မအူတန်းကျေးရွာအုပ်စု၊ ဒိုက်ဦးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ ၃၄၅.၆၅ ဧကအနက်မြေ ၁၃၃.၃၈ ဧက (၅,၃၉,၇၆၉.၆၅ စတုရန်းမီတာ) အားငှားရမ်း၍ ဝက်သားပေါက် မွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန်ရည် ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၅,၃၉,၇၆၉.၆၅ စတုရန်းမီတာ)တွင် လိုအပ်သောအဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ နှစ်စဉ်ဝက်သားပေါက်ကောင်ရေ (၂) သိန်းကျော်အထိ သားဖောက်မွေးမြူ ထုတ်လုပ်ကာ ဈေးကွက်အတွင်း ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းအတွက် လိုအပ်သည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ငန်းကိုလည်း ရေးဆွဲ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar C.P. Livestock Company Limited မှ ဝက်သားပေါက် မွေးမြူ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စနစ်တကျ သန့်စင်ခြင်းမရှိဘဲ စွန့်ပစ်ပါက မြေပေါ်နှင့် မြေအောက်ရေ ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ မျိုး ဝက်မွေးမြူရာတွင် အသုံးပြုသည့် ကာကွယ်ဆေးများနှင့် ကြီးထွားရန် အသုံးပြုသည့် ဟိုမုန်းဆေးများ၏ အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထု ညစ်ညမ်းခြင်း၊

(စ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ဆေးဖြန်းခြင်း၊ လိုအပ်သည့် အစီအမံများ စီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးဝက်တွင်ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောဂါအသွင် ကူးစက်ရောဂါများ ဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar C.P. Livestock Company Limited မှ ဝက်သားပေါက် မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါ သည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်

ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ (၂%) ကိုအသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း **(EnvironmentalImpact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကိုဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်

ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပဲခူးတိုင်းဒေသကြီး
ရုံးလက်ခံ